အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက်(Irrawaddy Fisheries Development Co., Ltd.) မှ ပုစွန်မွေးမြူ ထုတ်လုပ် ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် ရင်းနှီးမြှုပ်နှံသူ | - ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက် (Irrawaddy Fisheries Development Co., Ltd.) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ပုစွန်မွေးမြူ ထုတ်လုပ် ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင် ကျေးရွာ၊ ကွင်းအမှတ် -၁၉၈၈၊ သဇင်ကွင်းပြင်ကွင်း |
| ၃။ | မြေပိုင်ရှင် | - ဦးဌေးမြင့် |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၆၀၀.၅၆ ဧက (၆၅၁၇၇၁၀. ၈၄၁၆ စတုရန်း မီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၁,၆၀၀,၅၆၀<br>- (တစ်ဧကလျှင် ၁၀၀၀ကျပ် နှုန်း) |
| ၄။ | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ ထည့်ဝင်သည့်အမျိုးအစား | ကျပ် ၆၆,၄၃၅.၆၆ သန်း (အမေရိကန်ဒေါ်လာ ၂၂.၅၅၈ သန်း အပါအဝင်)<br>**ကျပ်/သန်း** |
| | ငွေသား | ၂၃,၃၇၅.၀၀ (အမေရိကန်ဒေါ်လာ ၂.၅၀သန်းအပါအဝင်) |
| | စက်ပစ္စည်းစာရင်း(ပြည်တွင်း) | ၁၂,၅၆၈.၂၅ |
| | စက်ပစ္စည်းစာရင်း(ပြည်ပ) | ၂၃,၀၂၈.၃၀ (အမေရိကန်ဒေါ်လာ ၁၇.၀၅၈သန်း) |
| | ဓာတ်ခွဲခန်းသုံးပစ္စည်း(ပြည်ပ) | ၄,၀၅၀.၀၀ (အမေရိကန်ဒေါ်လာ ၃.၀၀သန်း) |
| | မြေငှားရမ်းခ | ၁၆. ၁၁ |
| | အဆောက်အဦဆောက် လုပ်မှု ကုန်ကျစရိတ် | ၃,၃၉၈.၀၀ |
| | **စုစုပေါင်း** | **၆၆,၄၃၅.၆၆** |
| ၆။ | ရောင်းချမည့်စနစ် | -ပြည်ပ ၁၀၀ ရာခိုင်နှုန်း |

<table>
<tr><td>၇။</td><td>ထုတ်လုပ်မှု နှင့်ရောင်းဈေးနှုန်း<br><br>ပုစွန်</td><td>
<table>
<tr><th>ထုတ်လုပ်မှုအရေအတွက်(တန်)</th><th>ဈေးနှုန်း(US$/Ton)</th></tr>
<tr><td>၃၆၈၆.၄၀</td><td>၅၀၀၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
<table>
<tr><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td>၇၆၀ ဦး</td><td>၁၃ဦး</td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၃၀၀,၀၀၀</td><td>US$ ၂,၁၅၀</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၁,၂၀၀,၀၀၀</td><td>US$ ၃,၇၅၀</td></tr>
</table>
</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>
- မြေပိုင်ရှင်ဦးဌေးမြင့် နှင့် ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုး တိုးတက်ရေး ကုမ္ပဏီ လီမိတက် တို့ ချုပ်ဆိုထား သော Land Lease Agreement အား တင်ပြထားပါသည်။<br>
- ငွေရေးကြေးရေး အထောက်အထားအဖြစ် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက် အမည်ဖြင့် ရန်ကုန်မြို့ရှိ ကမ္ဘောဇဘဏ် ၌ ၂၃-၁-၂၀၁၈ ရက်စွဲ ဖြင့် ကျပ် ၁,၁၇၃,၈၄၄,၇၁၇.၆၀ရှိကြောင်း တင်ပြ ထား ပါသည်။<br>
- ကုန်ကြမ်းပစ္စည်းများဖြစ်သော ပုစွန်သားပေါက်၊ ပုစွန်အစာ၊ ပုစွန်မျိုးများကို ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>
-အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၊ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနများမှသဘောတူကြောင်းမှတ်ချက်များရရှိ ထားပါသည်။
</td></tr>
</table>

**ကန့်သတ်**

၃

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၂/ ခ-၀၁၈ /၂၀၁၈( ၁၈၉ )
ရက်စွဲ ၊၂၀၁၈ ခုနှစ် ဧပြီလ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက်(Irrawaddy Fisheries Development Co., Ltd.) မှ ပုစွန်မွေးမြူ ထုတ်လုပ် ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ**

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Co., Ltd. ) မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင် ကျေးရွာ၊ ကွင်းအမှတ် -၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ ၁၆၁၀.၅၆ ဧက (၆၅၁၇၇၁၀. ၈၄၁၆ စတုရန်းမီတာ) ကို ငှားရမ်း၍ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထား လွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင်ဦးဌေးမြင့်နှင့် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Co., Ltd. )တို့ ချုပ်ဆိုထား သော Land Lease Agreement အား တင်ပြ ထားပါသည်။ မြေအကျယ်အဝန်းမှာ မြေ ၁၆၁၀.၅၆ ဧက (၆၅၁၇၇၁၀. ၈၄၁၆ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၁,၆၁၀,၅၆၀ ဖြစ်ပါသည်။ လုပ်ငန်း၏တည်ဆောက်ရေးကာလ မှာ ၁၂လ ဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ဦးဌေးမြင့်အမည်ဖြင့် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်းအသုံးပြုရန် ဆင့်ဆိုသောအမိန့် ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ နိုင်ငံသားမှတ်ပုံတင်မိတ္တူတို့ကို တင်ပြထား ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂၂.၅၅၈ သန်း အပါအဝင် ကျပ် ၆၆၄၃၅.၆၆ သန်းဖြစ်ပါ သည် ။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ နောက်ဆက်တွဲ-ကပါအတိုင်း ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၇၆၀ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းအတွက်လိုအပ်သော ပုစွန်သားပေါက်နှင့် ပုစွန်အစာများအားပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ထွက်ရှိလာသော ပုစွန်များကို ပြည်ပသို့၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ် ပါ သည်-

| စဉ် | အမျိုးအစား | အရေအတွက် (တန်) | ရောင်းဈေးနှုန်း ( US$/ Ton) |
|---|---|---|---|
| (က) | ပုစွန် | ၃၆၈၆.၄၀ | ၅၀၀၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ** မှ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာ နှင့် စပ်လျဉ်း၍ လန ၃၉/၄၀ ဖြင့် လယ်ယာမြေကို သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသောအမိန့်ဖြင့် ခွင့်ပြုထားသည့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရဆောင်ရွက်နိုင်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဂ**

၈။ ငွေကြေးအထောက်အထားအဖြစ် ဧရာဝတီရေ လုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက် အမည်ဖြင့် ရန်ကုန်မြို့ရှိ ကမ္ဘောဇဘဏ်တွင် ၂၃-၁-၂၀၁၈ ရက်နေ့၌ကျပ် ၁,၁၇၃,၈၄၄,၇၁၇.၆၀ရှိ ကြောင်း တင်ပြ ထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို လည်းတင်ပြထားပါသည်။

(ဂ) အဆိုပြုချက်လျှောက်ထားလွှာဖြင့် တင်ပြရသည့်အကြောင်းအရင်းမှာ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည် ဖြစ်ပါသဖြင့်ကော်မရှင်သို့ အဆိုပြုချက် တင်ပြရခြင်း ဖြစ်ပါ သည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုနည်းပါးသောဒေသများဇုန်(၁)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိ ရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၇/၂၀၁၈ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

(စ) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း(၁)ခုအား ကော်မရှင်မှခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ လီမိတက် (Irrawaddy Fisheries Development Co., Ltd.) မှ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

**နောက်ဆက်တွဲ-က**

**စုစုပေါင်းမတည်ငွေရင်းပမာဏ**

| အကြောင်းအရာ | **ကျပ်/သန်း** |
|---|---|
| ငွေသား<br><br>စက်ပစ္စည်းနှင့်လုပ်ငန်းသုံး ပစ္စည်းစာရင်း(ပြည်တွင်း) | ၂၃,၃၇၅.၀၀ (အမေရိကန်ဒေါ်လာ ၂.၅၀သန်း အပါအဝင်)<br><br>၁၂,၅၆၈.၂၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ)<br><br>ဓာတ်ခွဲခန်းသုံးပစ္စည်း(ပြည်ပ) | ၂၃,၀၂၈.၃၀ (အမေရိကန်ဒေါ်လာ ၁၇.၀၅၈သန်း အပါအဝင်)<br><br>၄,၀၅၀.၀၀ (အမေရိကန်ဒေါ်လာ ၃.၀၀သန်း အပါအဝင်) |
| မြေငှားရမ်းခ | ၁၆. ၁၁ |
| အဆောက်အဦဆောက် လုပ်မှု ကုန်ကျစရိတ် | ၃,၃၉၈.၀၀ |
| **စုစုပေါင်း** | **၆၆,၄၃၅.၆၆ (အမေရိကန်ဒေါ်လာ ၂၂.၅၅၈ သန်း အပါအဝင်)** |

Irrawaddy Fisheries Development Co., Ltd. ၏

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Irrawaddy Fisheries Development Co., Ltd. | (၁) ဦးဌေးမြင့် | အမှတ်(၁၃၀)၊ရွှေဂုံတိုင်လမ်း၊ ရေတာရှည်ရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ |
| | | (၂) ဒေါ်ဇာခြည်ဌေး | အမှတ်(၃၃)၊အေးရိပ်မွန်လမ်း၊ (၃)ရပ်ကွက်၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့ |
| | | (၃) ဒေါ်ခင်ဌေးလင်း | အမှတ်-၆၁၅(ယာ)၊ ပြည်လမ်း၊ (၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန် |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၀၉၂၀၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်သန္တာထွန်း

၄ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၄၅၅၃/၂၀၁၇-၂၀၁၈(ရက)(၂၂-၁-၂၀၁၈)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၂၂-၁-၂၀၂၃

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - ကမ္ဘောဇဘဏ်၊၀၂၁၆၀၂၀၀၇၀၀၁၅၅၆၀၁

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၉/၁၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Irrawaddy Fisheries Development Co., Ltd. မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၇/ ၂၀၁၈(၁၀၈)

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Co., Ltd.) မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်ကျေးရွာ၊ ကွင်းအမှတ်- ၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ ၁,၆၁၀.၅၆ ဧက (၇,၄၇၄,၃၈၃.၄၉ စတုရန်းမီတာ) ကို ငှားရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထား မှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၃၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁၂) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ(၇,၄၇၄,၃၈၃.၄၉ စတုရန်းမီတာ) ပေါ်တွင် ၇၀၀ စတုရန်းမီတာ အကျယ်ရှိ ရုံးဝန်ထမ်းအိမ်ယာ (၁၀၀) ခန်း၊ ဂိုဒေါင်၊ M&E office၊ Training Center & Research Center အဆောက်အဦများ၊ မွေးမြူရေးလုပ်ငန်းအတွက်လိုအပ်သည့် Hatchery Building၊ Nursery Pond၊ Grow out Pond၊ Water Treatment၊ Drainage Canals၊ Settlement Pond & Canals၊ Sludge Pond၊ Reservoir၊ Central Waste Drainage System များနှင့် ဓာတ်ခွဲခန်းများတည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ကုန်ကြမ်းတင်သွင်းမှုအနေဖြင့် ပုစွန်သားပေါက်၊ ပုစွန်အစာ၊ ပုစွန်မျိုး၊ ဓါတုဗေဒပစ္စည်းနှင့်စက်သုံးဆီများအား ပထမနှစ်တွင် အမေရိကန်ဒေါ်လာ (၁၂) သန်းကျော်မှ (၅) နှစ်ကျော်နောက်ပိုင်းတွင် အမေရိကန်ဒေါ်လာ (၃၂) သန်းကျော်အထိ တင်သွင်းသွားမည် ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် တန်ချိန် (၃၆၈၆.၄) တန်ဘိုးအမေရိကန်ဒေါ်လာ (၁၈) သန်းကျော်မှ (၆) နှစ်အတွင်း တန်ချိန် (၁၀၅၉.၂) တန်ဘိုးအမေရိကန်ဒေါ်လာ (၅၅) သန်းကျော်အထိ ရာခိုင်နှုန်းပြည့် ပြည်ပသို့တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ကနဦးပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ခြင်းပြုလုပ်ပြီး လိုအပ်သည့်စောင့်ကြည့်လေ့လာမှုအစီအစဉ်၊ လုပ်ငန်းအတွက်သုံးစွဲမည့် ရံပုံငွေစသည်တို့ပါဝင်သည့် စီမံခန့်ခွဲမှုအစီအစဉ်ကိုရေးဆွဲပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပ ဒေ၊ လုပ်ထုံး /လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Irrawaddy Fisheries Development Co., Ltd. မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဉီများဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့်မြေသားအမှုန်အမွှားများနှင့်ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့်ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ပုစွန်သားပေါက်များနှင့် မွေးမြူရေးပုစွန်များကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင်ရောင်းချခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် မွေးမြူရေးအစာတောင့်များမှထွက်ရှိလာမည့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများအားကျန်းမာရေး ထိခိုက်စေနိုင်ခြင်း၊

(ဃ) ပုစွန်ကန်များမှ စွန့်ပစ်မည့်ရေဆိုးများအား မြစ်၊ ချောင်းများအတွင်းသို့ သန့်စင်ခြင်းမရှိဘဲတိုက်ရိုက်စွန့်ပစ်ပါက မြစ်၊ ချောင်းများ ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊ ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Irrawaddy Fisheries Development Co., Ltd. မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ - ၁

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး(၇၂၇ /၂၀၁၈)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၅ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၂-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၂/အ-၀၂၇/၂၀၁၈ (၁၀၆)

(၂) ငါးလုပ်ငန်းဦးစီးဌာန၏ ၁၃-၃-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ငလ/နပတ-၆/ ၂၀၁၈ (၁၅၄၇)

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Co., Ltd) မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်ကျေးရွာ၊ ကွင်းအမှတ်-၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ (၁၆၁၀.၅၆) ဧက (၇၄၇၄၃၈၃.၄၈၁၆ စတုရန်းမီတာ) ကို ငှားရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် MIC သို့ တင်ပြလာမှုအပေါ် ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း (၁) ပါစာဖြင့် ပေးပို့လာပါသည်။

၂။ ကုမ္ပဏီမှ ငှားရမ်းလုပ်ကိုင်မည့်မြေနေရာသည် လယ်ယာမြေကို အခြားနည်း အသုံးပြုခွင့် လယ်/နိုင် (၃၉)/၄၀ ရရှိပြီး ရေငန်ပုစွန်ကန်မြေ ဖြစ်ပါသည်။ အဆိုပါမြေနေရာအား ပုစွန်မွေးမြူရေးကန်များ တူးဖော်ခြင်း၊ သားဖောက်လုပ်ငန်းများ လုပ်ကိုင်ခြင်း၊ ပုစွန်မွေးမြူခြင်း၊ လုပ်ကိုင်ခြင်းတို့ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေး၊ ကျန်းမာရေးထိခိုက်မှု မရှိနိုင်ပါကြောင်းနှင့် ပြည်ပမှ ပုစွန်သားပေါက်များနှင့် အစာများတင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက်လျှောက်ထားရယူခြင်းဖြင့်လည်းကောင်း၊ ကောင်းမွန်သော ရေသတ္တဝါမွေးမြူရေးကျင့်စဉ်(GAqP) နှင့်အညီ မွေးမြူထုတ်လုပ်ရန် လိုအပ်မည်ဖြစ်ကြောင်း ငါးလုပ်ငန်းဦးစီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Co., Ltd) မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်ကျေးရွာ၊ ကွင်းအမှတ်-၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ (၁၆၁၀.၅၆) ဧက (၇၄၇၄၃၈၃.၄၈၁၆ စတုရန်းမီတာ) ကို ငှားရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် အဆိုပြုချက်နှင့်

ပတ်သက်၍ ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း၊ စည်းမျဉ်းအတိုင်း လုပ်ဆောင်လျှင် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ငါးလုပ်ငန်းဦးစီးဌာန

စာအမှတ်။ ငလ/နပတ-၆/၂၀၁၈(၁၅၄၇)

ရက်စွဲ။ ၂၀၁၈ခုနှစ်၊ မတ်လ ၂၃ ရက်

ပြည်ထောင်စုဝန်ကြီးရုံး

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ (၅-၃-၂၀၁၈) ရက်စွဲပါစာအမှတ်၊ ၃/၂၀၀၀/မွေးရေကျေး/(၁၀၅/၂၀၁၈)

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Co., Ltd) မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်ကျေးရွာ၊ ကွင်းအမှတ်-၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ (၁၆၁၀.၅၆) ဧက (၇၄၇၄၃၈၃.၄၈၁၆ စတုရန်းမီတာ) ကို ငှါးရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် MIC သို့ တင်ပြလာမှုနှင့်ပတ်သက်၍ ငါးလုပ်ငန်းဦးစီးဌာနမှ စိစစ်ပြီး သဘောထားမှတ်ချက်အား ပြည်ထောင်စုဝန်ကြီးရုံးသို့ (၁၄-၃-၂၀၁၈) ရက်နေ့အရောက် တင်ပြပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီမှ ငှါးရမ်းလုပ်ကိုင်မည့်မြေနေရာသည် လယ်ယာမြေကိုအခြားနည်းအသုံးပြုခွင့် လယ်/နိုင်(၃၉)/၄၀ ရရှိပြီး ရေငန်ပုစွန်ကန်မြေဖြစ်ပါသည်။ အဆိုပါမြေနေရာအား ပုစွန်မွေးမြူရေးကန်များ တူးဖော်ခြင်း၊ သားဖောက်လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပုစွန်မွေးမြူခြင်းလုပ်ကိုင်ခြင်းတို့ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေး၊ ကျန်းမာရေးထိခိုက်မှု မရှိနိုင်ပါကြောင်းနှင့် ပြည်ပမှ ပုစွန်သားပေါက်များနှင့် အစာများတင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက်လျှောက်ထားရယူခြင်းဖြင့်လည်းကောင်း၊ ကောင်းမွန်သော

ရေသတ္တဝါမွေးမြူရေးကျင့်စဉ် (GAqP) နှင့်အညီ မွေးမြူထုတ်လုပ်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ခင်မောင်မော်
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

- ရုံးလက်ခံ
- မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး



စာအမှတ်၊ ၄၀၀ / ၄ - ၈ ( ၃ )အစိုးရ(ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆.၂.၂၀၁၈) ရက်စွဲပါစာအမှတ်၊ မရက - ၂/ အ - ၀၂၇ / ၂၀၁၈ (၁၀၇)

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawady Fisheries Development Co.,Ltd)မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်ကျေးရွာ၊ ကွင်းအမှတ်-၁၉၈၈၊ သဇင်ကွင်းပြင်ကွင်းရှိ မြေဧရိယာ ၁၆၁၀.၅၆ ဧက (၇၄၇၄၃၈၃.၄၈၁၆ စတုရန်းမီတာ)ကို ငှားရမ်း၍ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရေချို/ရေငန်သတ္တဝါများ မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ (၁၃/၂၀၁၇)အရ ဦးစားပေးမြှင့်တင်မည့် လုပ်ငန်းများစာရင်းပါဝင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်ပါကြောင်း၊

(ခ) ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့သည် ဖွံ့ဖြိုးမှုနည်းပါးသော (ဇုန်-၁)တွင်ပါဝင်ပြီး အဆိုပြုလုပ်ငန်းအနေဖြင့် အခွန်ကင်းလွတ်ခွင့်သက်သာခွင့် လျှောက်ထားနိုင်မည်ဖြစ်ပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေ ၁၆၁၀.၅၆ ဧကအား ယုဇနကုမ္ပဏီလီမိတက် ဥက္ကဋ္ဌ ဦးဌေးမြင့်အမည်ဖြင့် လန ၃၉/၄၀ ရေငန်ပုစွန်ကန်မြေအဖြစ် အသုံးပြုရန် ခွင့်ပြုထားကြောင်း တွေ့ရှိရပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၃၂ အရ သက်ဆိုင်ရာတိုင်းဒေသကြီး (သို့မဟုတ်)ပြည်နယ်အစိုးရများမှ အဆိုပြုလုပ်ငန်းသည် အဆိုပါမြေ၌ ဆောင်ရွက်ရန်သင့်တော်သည်ဟုယူဆ၍ ခွင့်ပြုခဲ့လျှင် မြေအမျိုးအစား၏ မူလရည်ရွယ်ချက်သည် မည်သို့ပင်ရှိစေကာမူ ကော်မရှင်သည် ရင်းနှီးမြှုပ်နှံသူအား မြေအသုံးပြုခွင့်ကို ခွင့်ပြုနိုင်ကြောင်း၊ ယင်းသို့ ခွင့်ပြုခြင်းသည် သက်ဆိုင်ရာဥပဒေအရ ဆောင်ရွက်ရမည့်တာဝန်များကို ကင်းလွတ်ခွင့်ပြုသည်ဟု မှတ်ယူခြင်းမပြုရကြောင်း။

၂။ သို့ဖြစ်ပါ၍ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawady Fisheries Development Co.,Ltd)မှ ပုစွန်မွေးမြူထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့်ပတ်သက်၍ လန ၃၉/၄၀ ဖြင့် လယ်ယာမြေကို သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသောအမိန့်ဖြင့် ခွင့်ပြုထားသည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်နိုင်ပါကြောင်း တင်ပြအပ်ပါသည်။

၂၀/၂/၁၈

ဝန်ကြီးချုပ် ( ကိုယ်စား )
(ငွေဝင်း ၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

၂၀/၂ ၁၉/၃ ၁၉/၃ ၁၉/၃ ၁၉/၃

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ